Lease shall apply with the necessary changes to this Lease as if:-

a) The Head Lease terms were set out in this Lease

b) The lessor and lessee under the Head Lease were the Lessor and Lessee under this Lease.

7.2 Lessor's Obligations

If the Lessor cannot practically perform any obligation of the Head Lessors under the Head Lease for the purposes of this Lease, then the Head Lessor's corresponding obligation under this Lease will be interpreted only as an obligation to take all reasonable steps to require the Head lessors to carry out the Head Lessor's relevant obligation under the Head Lease.

Where under this Lease the Lessor's consent is required for anything done or proposed to be done by the Lessee, then the Head Lessor's prior consent will also be required.

## 8. LESSOR REPRESENTATIONS AND WARRANTIES

The Lessor warrants and represents as follows:-

8.1 It is the valid and legal lessee under the Head Lease.

8.2 The Head Lease is in full force and effect, and as at the date of entry into this lease there are no subsisting breaches of the Head lease.

8.3 The Lessor has promptly observed and performed all covenants, obligations, conditions and restrictions imposed upon the Lessor under the Head Lease.

8.4 The Lessor has obtained all consents necessary in granting this lease to the Lessor (including but not limited to the consent of the Head Lessors).

8.5 All rent and other charges or payments payable by the Lessor under the Head Lease have been promptly paid as and when due.

8.6 The Lessor has not waived any covenant, obligation or restriction to be observed or performed under the Head Lease.

8.7 The Lessor has not received, nor is it aware of, any notice or requisition from the Head Lessors which might affect the Head Lease and/or this Lease.

8.8 The Premises is occupied or otherwise used by the Lessor in connection with its business. The present use of the Premises is not in contravention of any applicable laws, orders or official directions.

8.9 The Lessor has not mortgaged, charged or otherwise encumbered its interests under the Head Lease.

8.10 The Lessor has the full legal right and power to execute and deliver this Agreement and to perform fully its respective obligations under it and has taken all action necessary to authorise such execution and delivery and the performance of such obligations.

8.11 This Agreement constitutes legal, valid and binding obligations of the Lessor enforceable in accordance with its terms.

8.12 The Lessor's entry into and performance of its obligations under this Agreement will not conflict with or breach any law, judgment/order, its articles of association or any contracts to which it is a party.

## 9. DEFAULT

9.1 The following are considered events of default: if any Part shall:-

(a) in any material respect fail to perform or breach the terms and conditions of this Lease; or

(b) be declared bankrupt or insolvent; or

(c) enter into voluntary or involuntary liquidation,

and any such event of default is not remedied within 90 (ninety) days from the date of notification in writing from the non-defaulting party.

## 10. TERMINATION

10.1 This lease shall be terminated on the occurrence of one of the following events:

(a) Agreement in writing by both parties hereto to terminate the lease and submit the same to the Myanmar Investment Commission for approval in accordance with Clause 13 under Chapter 7 of the procedures relation to the Republic of the Union of Myanmar Foreign Investment law: or

(b) Any event of default in 9.1(a) to (c) that is not remedied within the 90 (ninety) day grace period described in clause 9.1.

10.2 The termination of this Agreement shall be effected after receiving approval from the Myanmar Investment Commission.

10.3 Following the termination of this Agreement, the Lessor shall be at liberty to re-enter upon and take possession of the land or any part thereof (provided however that any such re-entry shall not prejudice any accrued rights of a Party against the other Party prior to such termination).

## 11. MISCELLANEOUS PROVISIONS

11.1 Notices. All notices and communications between the Parties shall be in writing and delivered at the address of Parties, either by personal service or by registered or certified mail, postage prepaid, addressed to:

**Lessor:** Pun Hlaing International Hospital Limited
Level 10, FMI Centre, 380 Bogyoke Aung San Road, Pabedan Township, Yangon, Myanmar.

**Lessee:** Yoma Siloam Hospital Pun Hlaing Limited
Level 10, FMI Centre, 380 Bogyoke Aung San Road, Pabedan Township, Yangon, Myanmar.

11.2 No Amendment or Modification Except in Writing. No provision of this Agreement shall be amended or added to this Agreement, except an amendment agreement which in writing and signed by the Parties or their respective successors-in-interest. No supplement, modification, or amendment of this Agreement shall be binding unless executed in writing by both Parties.

11.3 Waivers. No waiver or any breach of any covenant or provision herein contained shall be deemed a waiver of any other covenant or provision herein contained, and no waiver shall be valid unless in writing and executed by the waiving Party.

11.4 Severability. The unenforceability, invalidity, or illegality of any provision shall not render the other provisions unenforceable, invalid or illegal.

11.5 Headings. The headings of this Agreement shall have no effect on its interpretation.

11.6 Applicable Law & Arbitration. This Agreement is governed by and will be construed in accordance with the Republic of the Union of Myanmar law.

Any dispute, controversy, claim or difference arising out of or in connection with this Agreement shall be referred to and determined by arbitration by 1 (one) arbitrator unless the dispute, controversy, claim or difference exceeds USD 1 (One) Million in which case 3 (three) arbitrators shall be appointed under the Arbitration Rules of the Singapore International Arbitration Centre. The arbitration shall take place in Singapore and be conducted in English. In the event that 3 (three) arbitrators are appointed:-

(a) One arbitrator is to be appointed by PT Waluya Graha Loka, a shareholder of the Lessee; and
(b) One arbitrator is to be appointed by First Myanmar Investment Co., Ltd, a shareholder of the Lessor; and
(c) One arbitrator is to be appointed jointly by the arbitrators at subclauses (a) and (b) above.

From the commencement date of any arbitration under this Agreement, both Parties agree:-

(a) not to commence any proceedings through the court system (or any other mediation/dispute resolution system), either in Myanmar or Singapore.

(b) to use their best endeavours to give effect to the outcome of any arbitration rulings.

**IN WITNESS WHEREOF**, the Parties have signed their names to this Agreement on the date first above written.

| | |
|---|---|
| **LESSOR:**<br>Pun Hlaing International Hospital Limited | ***Witness:***<br>***[SEAL]*** |
| By: ______________________<br>Name:<br>Title: Authorized Director | Name: ______________________<br>Date: ______________________ |
| **LESSEE:**<br>Yoma Siloam Hospital Pun Hlaing Limited | ***Witness:***<br>***[SEAL]*** |
| By: ______________________<br>Name:<br>Title: Authorized Director | Name: ______________________<br>Date: ______________________ |

26 MAY 2015

SPECIAL ADHESIVE

K 50000 — ၅၀၀၀၀ကျပ်

ချမ်းအေးသာစံမြို့နယ်

# မြေနှင့်အဆောက်အဦး ငှားရမ်းခြင်းကတိစာချုပ်

**ပိုင်ရှင်များ။**

ဦးသောင်းရွှေ (၁၃/တကက(နိုင်)၁၂၈၁၃၈)
ဒေါ်နန်းကြည် (၁၃/တကန(နိုင်)၁၂၅၀၆၅)
အမှတ်-(၃၅/အေ)၊ ၃၂ လမ်း၊ ၆၈×၆၉ လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။

**ငှားရမ်းသူ။**

**Pun Hlaing International Hospital Ltd.**
ကိုယ်စား - ဒေါက်တာရဲမိုးမြင့် (Chief Hospital Administrator) ၊ မှ (၁၉-၅-၂၀၁၅) ရက်စွဲပါ ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်းအရ တာဝန်ယူ လက်မှတ်ရေးထိုးပါသည်။
အမှတ် (၃၈၀)၊ FMI Centre၊ ၁၀ ထပ်၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

**ငှားရမ်းသည့်ပစ္စည်း။**

မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာစံမြို့နယ်၊ ရန်မျိုးလုံရပ်ကွက်၊ အမှတ် (၇၄၀)၊ (၇၃)လမ်း၊ ၃၁×၃၂ လမ်းကြားတွင်တည်ရှိသော ဦးပိုင်အမှတ် (၄-ခ) ~~၏ [illegible]~~ ဧရိယာဧက (၀.၁၆၂၄) အကျယ်အဝန်းရှိသော ဘိုးဘွားပိုင်မြေပေါ်တွင် ဆောက်လုပ်ထားသော အာရ်စီလေးထပ်တိုက်အဆောက်အအုံ၊ လျှပ်စစ်မီတာ (၁) လုံး၊ ပါဝါမီတာ (၁)လုံး၊ ရေမီတာ (၁)လုံး၊ အဝီစိတွင်း (ရေစုပ်စက်ပါ)၊ တယ်လီဖုန်း (၀၂-၃၉၉၆၅) အပါအဝင် နေထိုင်အသုံးပြုခွင့် အရပ်ရပ်အားလုံး။

အထက်ပါပိုင်ရှင်များမှ အထက်ဖော်ပြပါ ငှားရမ်းသည့်ပစ္စည်းကို တရားဝင် တစ်ဦးတည်း ပိုင်ဆိုင်သူဖြစ်ပြီး ငှားရမ်းသူများထံသို့ အောက်ပါစည်းကမ်းချက်များနှင့်အညီ ငှားရမ်းပေးရန် သဘောတူပါသည်။

(ပိုင်ရှင်များနှင့် ငှားရမ်းသူဟု ဆိုရာတွင် ၎င်းတို့ကိုယ်တိုင်အပြင် ၎င်းတို့၏ ဇနီး၊ ခင်ပွန်းများ၊ အမွေစား အမွေခံများ၊ ဆက်ခံခွင့်ရှိသူများ၊ ကိုယ်စားလှယ်လွှဲစာရသူများ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ၊ တရားဝင်လွှဲအပ်ခြင်းခံရသူများ၊ ကုမ္ပဏီ၏စဉ်ဆက်မပြတ်ဆက်ခံသူများ၊ ကုမ္ပဏီ၏တရားဝင်လွှဲအပ်ခြင်းခံရသူများနှင့် တနည်းနည်းဖြင့် လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။)

ကပ်ဆင့်ရေးမှတ်ချက်များကိုစာမျက်နှာ ၂၊ ၄၊ ၅၊ ၁၆ တွင်ကြည့်ပါ။



(ဦးသောင်းရွှေ) (နန်းကြည်) (ဒေါက်တာရဲမိုးမြင့်)

နေ့စွဲ ၈-၆-၂၀၁၅ စာချုပ်စာတမ်းမှတ်ပုံတင်ဌာနမှူး
မန္တလေးမြို့။

သဘောတူညီချက်များ

(က) ပိုင်ရှင်များမှ ငှားရမ်းသည့်ပစ္စည်းအား ငှားရမ်းသူထံသို့ ငှားရမ်းမှုကာလ (၁၂) နှစ် (တစ်ဆယ့်နှစ်နှစ်တိတိ)နှင့် အဆောက်အဦးပြင်ဆင်မှုလုပ်ငန်းကာလ (၄)လတိတိကို လက်ဝယ်ထားအသုံးပြုနိုင်ရန် ငှားရမ်းပေးမည် ဖြစ်သည်။ အဆောက်အဦး ပြင်ဆင်မှုလုပ်ငန်းများကို ဤစာချုပ်ကို စတင်လက်မှတ် ရေးထိုးသည့်နေ့မှ စတင်၍ အချိန် (၄ လတိတိ)ကို ငှားရမ်းခ ကင်းလွတ်သည့်ကာလအဖြစ် သဘောတူပါသည်။ ငှားရမ်းကာလအတွက် လစဉ်ငှားရမ်းခနှုန်းထားများကို အောက်တွင်ဖော်ပြထားသော အပိုဒ် (၃) တွင် ပါရှိသည့်အတိုင်း ပေးဆောင်ရမည်။

(ခ) ငှားရမ်းသူသည် ကျန်းမာရေးဝန်ကြီးဌာန၏ ခွင့်ပြုချက်ရရှိပါက ငှားရမ်းသည့်ပစ္စည်းပေါ်တွင် ဆေးရုံ တည်ဆောက်မည်ဖြစ်သည်။ ပိုင်ရှင်ခွင့်ပြုပေးထားသော ကြိုတင်ချိန် (၄) လအတွင်း ငှားရမ်းသူဘက်မှ ကျန်းမာရေးဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိပါက ငှားရမ်းသည့်ပစ္စည်းကို ငှားရမ်းသူကိုယ်တိုင်အနေဖြင့် အခြားလုပ်ငန်းပြုလုပ်ခြင်းဖြစ်စေ၊ ငှားရမ်းသူ၏ ကုမ္ပဏီအုပ်စုအတွင်းရှိ ကုမ္ပဏီတစ်ခုခုသို့ လုပ်ငန်းလုပ်ကိုင်စေခြင်းဖြစ်စေ ဆောင်ရွက်နိုင်သည်။

မြေပိုင်ရှင်များနှင့် ငှားရမ်းသူတို့ လိုက်နာရန်စည်းကမ်းချက်များ

၁။ ငှားရမ်းသူ မှ လိုက်နာရန်စည်းကမ်းများ

- ၁.၁ ဤစာချုပ်ပါ အပိုဒ်(၃)တွင် တိကျစွာဖော်ပြထားသည့်အတိုင်း ငှားရမ်းခကို ပေးချေရမည်။
- ၁.၂ ငှားရမ်းသည့်ပစ္စည်းကို ဆေးရုံအဖြစ် အသုံးပြုနိုင်ရန်အတွက် လိုအပ်သောအထွေထွေလုပ်ငန်းများကို အသုံးပြုရန်။
- ၁.၃ ပိုင်ရှင်(သို့မဟုတ်)ပိုင်ရှင်၏ကိုယ်စားလှယ်မှ သင့်လျော်သောအချိန်တွင် ငှားရမ်းသည့်ပစ္စည်းပေါ်သို့ ဝင်ရောက်ကြည့်ရှု စစ်ဆေးခွင့်ပြုရန်။ (ထိုသို့ ဝင်ရောက်ကြည့်ရှု စစ်ဆေးရန်အတွက် ငှားရမ်းသူထံသို့ ကြိုတင်၍ ခွင့်ပြုချက် တောင်းခံရမည်။)
- ၁.၄ ငှားရမ်းသူမှ ငှားရမ်းသည့်ပစ္စည်းနှင့် ပတ်သက်သည့် အထွေထွေအသုံးစရိတ်များ (မီတာခွန်၊ ရေခွန်၊ တယ်လီဖုန်းခွန်၊ လုပ်ငန်းလိုင်စင်ခွန်၊ စည်ပင်သာယာခွန် (အပိုဒ် (၂.၅) တွင် ပါရှိသောအသုံးစရိတ်များမပါ) တို့ကို ငှားရမ်းသည့်ကာလအတွင်း မိမိစရိတ်ဖြင့် ပေးချေရမည်။




၁.၅ ငှားရမ်းသူအနေဖြင့် ငှားရမ်းသည့်ပစ္စည်းပေါ်တွင် ဥပဒေနှင့်ဆန့်ကျင်သော မည်သည့်လုပ်ငန်းကိုမျှ မပြုလုပ်ရ။ ငှားရမ်းသူ၏ ဥပဒေနှင့်မညီညွတ်သော လုပ်ရပ်များကြောင့် မလိုလားအပ်သောကိစ္စများ ဖြစ်ပေါ်လာပါက ပိုင်ရှင်နှင့်ဖြစ်စေ၊ ငှားရမ်းသည့်ပစ္စည်းနှင့်ဖြစ်စေ တစ်စုံတရာ ပတ်သက်ခြင်းမရှိစေရ။

၁.၆ ငှားရမ်းသူသည် စာချုပ်ပါစည်းကမ်းချက်များကို ဖောက်ဖျက်ခြင်းအတွက် ပိုင်ရှင်အား တစ်စုံတရာနစ်နာမှု မရှိစေရ။

၁.၇ ငှားရမ်းသည့်ပစ္စည်းအား လိုအပ်သလိုပြန်လည်ပြုပြင်ရမည်ဖြစ်ပြီး ကောင်းမွန်စွာ ထိန်းသိမ်း စောင့်ရှောက်ရမည်။

၁.၈ စာချုပ်သက်တမ်းကုန်ဆုံးလျှင် (သို့မဟုတ်)စာချုပ်ကိုရပ်စဲလျှင် ငှားရမ်းသည့်ပစ္စည်းကို ငှားရမ်းသူ၏ ပစ္စည်းပစ္စယများကို ဖယ်ရှားပေးပြီး အလွတ်အခြေအနေအတိုင်း ပိုင်ရှင်ထံသို့ ပြန်လည်လွှဲပြောင်းပေးရမည်။ တည်ရှိပြီးသောအဆောက်အဦးဖြစ်စေ အသေတပ်ဆင်ထားသော ပစ္စည်းများ (ဥပမာ-ဓာတ်လှေကား ဖြစ်စေ) ကို ပြန်လည်ဖြုတ်ယူခြင်း မပြုရ။

၁.၉ စာချုပ်သက်တမ်းကုန်ဆုံးချိန်တွင် ငှားရမ်းသူသည် မိမိ၏ပစ္စည်းများကို ဖယ်ရှားရှင်းလင်းပေးရမည်ဖြစ်ပြီး ပိုင်ရှင်၏ပစ္စည်းများ ပျက်စီးမှုရှိခဲ့ပါက သင့်တော်သလို ကောင်းအောင် ဆောင်ရွက်ပေးခဲ့ရမည်။

၂။ ပိုင်ရှင်မှ လိုက်နာရန် စည်းကမ်းများ

၂.၁ ငှားရမ်းသူဘက်မှ ငှားရမ်းသည့်ပစ္စည်းအား ဆေးရုံအဖြစ်အသုံးပြုနိုင်ရန်အတွက် လိုအပ်သလို ပြုပြင် ပြင်ဆင်ခြင်းများကို ခွင့်ပြုပေးရမည်။

၂.၂ ငှားရမ်းသည့်ပစ္စည်းပေါ်တွင် ဆောက်လုပ်ခွင့်ပါမစ်နှင့် အခြားလုပ်ငန်းလိုင်စင်များ လျှောက်ထားရာတွင် ပိုင်ရှင်သည် စာရွက်စာတမ်းများကို သက်ဆိုင်ရာဌာနများတွင် ငှားရမ်းသူနှင့်အတူ လိုက်ပါ ပြသ၍ လိုအပ်သည်များကို ကူညီဆောင်ရွက်ပေးရမည်။

၂.၃ ပိုင်ရှင်မှဖြစ်စေ၊ ပိုင်ရှင်၏ကိုယ်စားလှယ်မှဖြစ်စေ ငှားရမ်းသည့်ပစ္စည်းအား လာရောက်ကြည့်ရှုစစ်ဆေးစဉ်အတွင်း ငှားရမ်းသူအား ထိခိုက်နစ်နာစေခြင်း၊ ပျောက်ဆုံး ပျက်စီးစေခြင်း စသည့်ကိစ္စရပ်များအတွက် ပိုင်ရှင်မှ ငှားရမ်းသူ၏နစ်နာမှုအတွက် တာဝန်ယူပါကြောင်း အာမခံချက်ပေးရမည်။



ပိုင်ရှင်များ




၂.၄ ငှားရမ်းသူမှ ဆက်သွယ်ရေးလွယ်ကူစေရန် ငှားရမ်းသည့်ပစ္စည်းတွင် ပါရှိသော တယ်လီဖုန်းအပြင် အခြားတယ်လီဖုန်းများတပ်ဆင်ခြင်းနှင့် တယ်လီဖုန်းသုံးစွဲခြင်းများကို ခွင့်ပြုရမည်။

၂.၅ မြေခွန်၊ အဆောက်အဦးခွန်ကို ပေးချေရမည်။

၂.၆ ငှားရမ်းသူမှ ငှားရမ်းသည့်ပစ္စည်းအား လိုအပ်သလို ပြောင်းလဲခြင်း၊ ခေတ္တ ပြောင်းလဲခြင်းများနှင့် ပိုမိုကောင်းမွန်စေရန် ပြုပြင်ခြင်းများကို ခွင့်ပြုပေးရမည်။ ထိုသို့ ပြုပြင်ပြောင်းလဲခြင်းများကို စည်ပင်သာယာဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်ဖြစ်သည်။

၂.၇ ငှားရမ်းသည့်ပစ္စည်းအပေါ် အနှောက်အယှက်များ၊ လျော်ကြေးတောင်းဆိုခြင်းများနှင့် ပိုင်ရှင်ပြုလုပ်သော စိတ်ငြိုငြင်စေခြင်းများ ကင်းရှင်းစွာဖြင့် ငှားရမ်းသူသည် ငှားရမ်းသည့်ပစ္စည်းကို လက်ဝယ်ထားရှိ လုပ်ကိုင်ဆောင်ရွက်နိုင်ရမည်။ ငှားရမ်းသည့်ပစ္စည်းနှင့် ပတ်သက်၍ ဥပဒေအရ မည်သူတစ်ဦးတစ်ယောက်ကမျှ လာရောက်တောင်းဆိုနိုင်ခွင့်မရှိကြောင်း ပိုင်ရှင်မှ အာမခံပါသည်၊

၂.၈ ငှားရမ်းသူဘက်မှ ငှားရမ်းခပေးချေရန် ပျက်ကွက်ခြင်းကြောင့်ဖြစ်စေ၊ စာချုပ်ပါ စည်းကမ်းများကို ဖောက်ဖျက်လျှင်ဖြစ်စေ ယင်းဖောက်ဖျက်မှုကို ပြင်ဆင်ကုစားရန် ပိုင်ရှင်မှ ငှားရမ်းသူထံသို့ အကြောင်းကြားရမည်။ ထိုသို့အကြောင်းကြားခြင်းအပေါ် ငှားရမ်းသူမှ ရက်ပေါင်း (၆၀)အတွင်း ပြင်ဆင်ကုစားခြင်း (သို့မဟုတ်) အကြောင်းပြန်ကြားခြင်းစသည့် တစ်စုံတရာ ဆောင်ရွက်ခြင်းမရှိပါက ပိုင်ရှင်မှ အထက်ပါ ငှားရမ်းသည့်ပစ္စည်းကို ပြန်လည်သိမ်းယူခွင့်ရှိသည်၊

၃။ အပြန်အလှန်လိုက်နာရန် စည်းကမ်းချက်များ

၃.၁ ပထမငှားရမ်းသည့်ကာလ (၆)နှစ် အတွက် ငှားရမ်းခကို တစ်လလျှင် မြန်မာငွေကျပ်– ၉,၀၀၀,၀၀၀/ (ကျပ် သိန်းကိုးဆယ်တိတိ)နှုန်းဖြင့် ပေးချေမည်ဖြစ်ပါသည်။

၃.၂ ငွေပေးချေခြင်းကို အောက်ပါဇယားအတိုင်း ပြုလုပ်ရန် သဘောတူပါသည်။




| စဉ် | ပေးချေသည့်ရက်စွဲ | ငှားရမ်းသည့် ကာလ |
|---|---|---|
| ၁ | ၂၅-၅-၂၀၁၅ | ပထမ ၆ နှစ် စာ |
| ၂ | စာချုပ်ချုပ်ဆိုသည့်အချိန်မှ စတင်၍ ၆ နှစ်နှင့် ၄ လ ပြည့်သည့်နေ့ | ဒုတိယ ၃နှစ် စာ |
| ၃ | စာချုပ်ချုပ်ဆိုသည့်အချိန်မှ စတင်၍ ၉ နှစ်နှင့် ၄ လ ပြည့်သည့်နေ့ | တတိယ ၃ နှစ် စာ |

၃.၃ ငှားရမ်းသူမှ ငှားရမ်းသည့်ပစ္စည်းကို ပြင်ဆင်နိုင်ရန်အတွက် ဤစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ ပထမငှားရမ်းသည့်ကာလတွင် ပြင်ဆင်ချိန် (၄ လတိတိ)ကို အခမဲ့ခွင့်ပြုပေးမည်။

၃.၄ ဒုတိယငှားရမ်းကာလ (၃) နှစ် နှင့် တတိယငှားရမ်းကာလ (၃) နှစ် တို့အတွက် ငှားရမ်းခ နှုန်းထားများကို ပိုင်ရှင်နှင့် ငှားရမ်းသူတို့ နှစ်ဦးနှစ်ဘက်မှ မန္တလေးဈေးကွက်၏ ကာလတန်ဖိုးကို စာချုပ်သက်တမ်းမပြည့်မီ (၁)လ ကြိုတင်၍ ကွင်းဆင်းစစ်ဆေးပြီးနောက် ရရှိလာသည့် နှုန်းထားများအား နှစ်ဘက်ညှိနှိုင်း တိုင်ပင်ပြီးတိုးခြင်း၊ လျှော့ခြင်း ပြုလုပ်ရန် နှင့် ယင်းငှားရမ်းခသည် နောက်ဆုံးငှားရမ်းသည့်ကာလအတွက် ပေးချေရသည့် ငှားရမ်းခ၏ ၁၀% ထက် မပိုစေ၊ မလျော့ စေရန် သဘောတူပါသည်။

၄။ စာချုပ်သက်တမ်းတိုးခြင်း နှင့် စာချုပ်သက်တမ်းကုန်ဆုံးခြင်း

၄.၁ ပိုင်ရှင်သည် ဤစာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် ငှားရမ်းသူဘက်မှ ဆက်လက်ငှားရမ်းလိုပါက ငှားရမ်းသူအား ပထမဦးစားပေးအနေဖြင့် အခွင့်အရေးပေး၍ နှစ်ဘက်ညှိနှိုင်း ဆွေးနွေးပြီး ပိုင်ရှင်မှဆက်လက်ငှားရမ်းလိုပါက နောက်ထပ် စာချုပ်သက်တမ်း (၁၂) နှစ်တိုးမြှင့်ခြင်းကို ဆောင်ရွက်နိုင်သည်။

၄.၂ ဒုတိယစာချုပ် (၁၂)နှစ် သက်တမ်းတွင် ငှားရမ်းခပေးချေခြင်းကို (၃) နှစ် တစ်ကြိမ်ပြုလုပ်မည်ဖြစ်ပြီး ယင်း (၁၂)နှစ် အတွက် သီးခြားစာချုပ်အဖြစ် ထပ်မံချုပ်ဆိုရမည်။




၄.၃ စာချုပ်သက်တမ်းတိုးပါက ပိုင်ရှင်နှင့် ငှားရမ်းသူတို့မှ နှစ်ဘက်သဘောတူ နာမည်ကောင်းရရှိထားသောပုဂ္ဂိုလ် (သို့မဟုတ်)အဖွဲ့အစည်းတစ်ခုခုကို ရွေးချယ်ပြီး မန္တလေးဈေးကွက်၏ ကာလတန်ဖိုးကို စာရင်းပြုစုစေ၍ အဆိုပါပုဂ္ဂိုလ်၏ အစီရင်ခံစာအပေါ်မှုတည်ပြီး ငှားရမ်းခနှုန်းထားအသစ်ကို ပြောင်းလဲသွားမည် ဖြစ်သည်။ ယင်းငှားရမ်းခနှုန်းထားအသစ်သည် ဒုတိယစာချုပ်သက်တမ်း (၁၂)နှစ်၏ ပထမကာလ (၃)နှစ်စာအတွက် ဖြစ်သည်။ ဒုတိယငှားရမ်းကာလ (၃)နှစ်၊ တတိယငှားရမ်း ကာလ (၃)နှစ်နှင့် စတုတ္ထငှားရမ်းကာလ(၃)နှစ် တို့အတွက် ငှားရမ်းခနှုန်းထားများကို ပိုင်ရှင်နှင့် ငှားရမ်းသူတို့ နှစ်ဦးနှစ်ဘက်မှ မန္တလေးဈေးကွက်၏ ကာလတန်ဖိုးကို စာချုပ်သက်တမ်းမပြည့်မီ (၁)လ ကြိုတင်၍ ကွင်းဆင်းစစ်ဆေးပြီးနောက် ရရှိလာသည့် နှုန်းထားများအား နှစ်ဘက်ညှိနှိုင်းတိုင်ပင်ပြီး တိုးခြင်း၊ လျှော့ခြင်းပြုလုပ်ရန်နှင့် ယင်း ငှားရမ်းခသည် နောက်ဆုံးငှားရမ်းသည့်ကာလအတွက် ပေးချေရသည့် ငှားရမ်းခ၏ ၁၀% ထက် မပိုစေ၊ မလျော့စေရန် သဘောတူပါသည်။

၄.၄ သက်တမ်းတိုးထားသောစာချုပ်ကို ရပ်စဲလိုပါက (၆) လ ကြိုတင်၍ အကြောင်းကြားစာ ပေးပို့ရမည်ဖြစ်သည်။ အကယ်၍ စာချုပ်သက်တမ်း မကုန်ဆုံးမီ ပိုင်ရှင်ဘက်မှ စာချုပ်ကို ရပ်စဲလိုပါက ကျန်ရှိသောကာလများအတွက် ငှားရမ်းသူ ကြိုတင်ပေးထားသော ငှားရမ်းခငွေများကို ပြန်လည်ပေးလျော်ရမည်။

၅။ ကိုယ်စားပြုခြင်းနှင့်တာဝန်ခံခြင်း

၅.၁ ပိုင်ရှင်သည် ငှားရမ်းသည့်ပစ္စည်းနှင့် ပတ်သက်၍ အပိုဒ် (၅.၂) တွင်ပါရှိသော အရှုပ်အရှင်း ပြဿနာမှတပါး ပိုင်ဆိုင်မှုနှင့်ပတ်သက်သည့် အခြားကိစ္စရပ်များ မရှိကြောင်း အာမခံပါ သည်။

၅.၂ ဤစာချုပ်ချုပ်ဆိုပြီးနောက် ပိုင်ရှင်မှ မန္တလေးဘဏ်တွင် အပေါင်ထားရှိသော ငှားရမ်းသည့်ပစ္စည်းနှင့်ပတ်သက်သည့် မြေပိုင်ဆိုင်မှုအား သွားရောက်ရွေးနုတ်ရာတွင် ငှားရမ်းသူမှ လိုက်ပါ ကြည့်ရှု စစ်ဆေးခွင့်ပြုရမည်။

၅.၃ အကယ်၍ ပိုင်ရှင်သည် စာချုပ်သက်တမ်း မကုန်ဆုံးမီ ငှားရမ်းသူအပြင် အခြားမည်သူ တစ်ဦးတစ်ယောက်ကိုမျှ ထပ်မံငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း မပြုလုပ်ရပါ။ အကယ်၍ ယင်းသို့ ပြုလုပ်ခြင်းကြောင့် ဖြစ်ပေါ်လာသော နောက်ဆက်တွဲ ပြဿနာများသည် ငှားရမ်းသူကို ဆုံးရှုံးနစ်နာမှုများ ဖြစ်ပေါ်လာပါက ငှားရမ်းသူမှ ပေးထား



သော ငှားရမ်းခတန်ဖိုးများအပြင် ရင်းနှီးမြှုပ်နှံထားသော (အမေရိကန်ဒေါ်လာ ခု သန်း) ကိုပါ ပြန်လည်ပေးလျော်ရမည်။

၅.၄ ပိုင်ရှင်သည် အထက်ပါပြသနာမှတပါး အခြားမည်သည့် အရှုပ်အရှင်းတစ်စုံတရာ မရှိပါကြောင်း ဝန်ခံကတိပြုပါသည်။

၆။ ဥပဒေလွှမ်းမိုးခြင်း

၆.၁ ဤစာချုပ်ပါ စည်းကမ်းချက်များအပေါ် အငြင်းပွားမှု တစ်စုံတရာ ဖြစ်ပေါ်လာပါက ပြည် ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ အဆုံးအဖြတ် ခံယူရမည်ဖြစ်သည်။

၇။ သဘောတူညီချက်

၇.၁ ဤသဘောတူစာချုပ်ကို ပိုင်ရှင်နှင့် ငှားရမ်းသူတို့၏ စာဖြင့် ရေးသားထားသော သဘော တူညီချက်များမပါဝင်ဘဲ တစ်စုံတရာ ပြုပြင်ခြင်း၊ ပြောင်းလဲခြင်း၊ ဖြည့်စွက် ခြင်းများ မပြုလုပ်ရန် နှစ်ဘက် သဘောတူကြပါသည်။

ပိုင်ရှင်နှင့် ငှားရမ်းသူတို့သည် အထက်ပါ သဘောတူစာချုပ်ကို လက်ခံ ကျေနပ်ကြကြောင်း ၂၀၁၅ ခုနှစ်၊ မေ လ၊ (၂၆) ရက်နေ့တွင် အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ပိုင်ရှင်
(ဦးသောင်းရွှေ)
၁၃/တကန(နိုင်)၁၂၈၁၁၈
သက်သေ

ပိုင်ရှင်
(ဒေါ်နန်းကြည်)
၁၃/တကန(နိုင်) ၁၂၅၀၆၅
သက်သေ

ဒေါက်တာဥက္ကါ
၁၂/အလန(နိုင်)၀၄၂၀၀၁

ဒေါ်ဝေဝေအောင်
၉/ခအဇ(နိုင်)၀၁၂၂၆၅

26 MAY 2015

K 5000

K 1000

K 100

SPECIAL ADHESIVE

ငွေးရမ်းသူ

**Pun Hlaing International Hospital Ltd.**
ကိုယ်စား - ဒေါက်တာရဲမိုးမြင့် (Chief Hospital Administrator)
မှ (၁၉-၅-၂၀၁၅)ရက်စွဲပါ ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်းအရ
တာဝန်ယူ လက်မှတ် ရေးထိုးပါသည်။

သက်သေ

ဒေါ်ကျော့်သိတာအောင်
၁၄/မအန(နိုင်)၁၀၄၆၅၃

မြေယာပုံစံ၊
(၁၀၅)

မန္တလေးတိုင်းဒေသကြီးအစိုးရ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန

| | |
|---|---|
| ၂၀၁၅/၁၆ ခုနှစ် အသုံးပြုသော မြေပုံမှာ ရေးကူးသော သက်သေခံ/ သက်သေမခံ ဦးပိုင်မြေပုံ |  |
| ခရိုင် – မန္တလေး | |
| မြို့နယ် –ချမ်းအေးသာစံမြို့နယ် | |
| ရပ်ကွက် – ဂုန်ထျိုးလုံ | |
| ကွင်း/အမှတ် – ၇၄၀ | |
| ဧကေး –သလကျမား ပေ၄၀ | |
| ရေးကူးပေးသည့်အကြောင်းအရာ အငှား စာချုပ်ချုပ်ဆိုရန် | |
| လျှောက်ထားသူအမည် ဒေါ်နှင်းကြည်-ပါ၂ | |
| လျှောက်လွှာအမှတ် . ၁၅၈၄ | |
| လျှောက်ထားသည့်နေ့ –၃၀.၇.၂၀၁၅ | |
| ထုတ်ပေးသည့်နေ့ – | |
| လျှောက်ထားသည့်အကြောင်းအရာ အတွက်သာအသုံးပြုခွင့်ရှိပါသည်။ | ၁၀/၈/၂၀၁၅<br>ဌာနမှူး (မြို/မြေ)<br>အိုးအိမ်ခြံအဆောင်း ——— |

| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုး | ဧရိယာ | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | | | ဧက | ဒဿမ | |
| ၄.၁ | ဦးသောင်းရွှေ၊ ဒေါ်နှင်းကြည် | ဗ | ဗ | ၀ | ၁၆၂၄ | မြို့၊မြေပြောင်းအသွင်ပြောင်း ၀၁၃၈/၁၁ / ၂၀၀၁/၀၂ (ခွဲ)ပြောင်း ၁နှင့် RD. No. ၁၁/၂၀၀၁ (ဦးခွဲမှ) နှင့် RD. No. ၇၆၆/၂၀၀၁ ဝယ်ယူ၍ ပြောင်း ၀၁၇၆၁၃၉ / ၂၀၁၄.၁၅ |

| | | |
|---|---|---|
| မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန<br>စာအမှတ် ———<br>ရက်စွဲ ——— | မြေပုံနှင့် မှတ်ပုံတင်စာရင်းများတွင်ပါရှိသည့်အတိုင်း အမှန်လက်ခံရေးကူးကြောင်း— သက်သေခံလက်မှတ်ရေးထိုးပါသည်။<br>၁၀.၈.၂၀၁၅<br>မြေတိုင်း(၄)<br>(မြို/မြေ) (မြို့/မြေ) | တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။<br>၁၀.၈.၂၀၁၅<br>မြို့နယ်တာဝန်ခံ<br>ချမ်းအေးသာစံမြို့နယ်<br>မြို့နယ်တာဝန်ခံ(မြို့/မြေ) |

မြေယာပုံစံ၊
(၁၀၆)

မန္တလေးတိုင်းဒေသကြီးအစိုးရ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန
(ဦးပိုင်တစ်ခုချင်း မြေရာဇဝင်)

မြို့နယ်အမည် ချမ်းအေးသာစံမြို့နယ် ရပ်ကွက်အမည် ဂုန်မျိုးကုန်း ကွင်း/အကွက်အမှတ် ၅၄၀

| ခုနှစ် | ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်းအစား | ဧရိယာ | | အခွန်တော် သင့်ငွေ (ခိုင်ကြေးပါ) | မည်ကဲ့သို့ပြောင်းလဲသည့်ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|---|
| | | | | | ဧက | ဒဿမ | | | |
| ၂၀၀၁ | ၄.၈ | ဦးကျော်သခင်း | ဗ | ဗ | ၀ | ၁၆၂၄ | - | မြေယာစီမံဌာနအသည်ပြောင်းအမှုအမှတ် ၀၆၆၁/၁၁ / ၂၀၀၀.၀၁ (ခွဲ/ပြောင်း) အရ ခွဲပြောင်းပြီးကျန်မြေ | |
| ၂၀၀၁ | ၄.၈ | ဦးသောင်းရွှေ၊ ဒေါ်နှိုးကြည် | ဗ | ဗ | ၀ | ၁၆၂၄ | - | မြို့/မြေဌာနအမှုအမှတ် ၀၀၃၈/၁၁ / ၂၀၀၁.၀၂ (ခွဲ/ပြောင်း) နှင့် R၁. No. ၁၁/၂၀၀၁ (ဆိုင်ခြင်း) နှင့် R၁. No. ၇၈၆/၂၀၀၁ ဝယ်ယူ၍ပြောင်း ၀၁၇၆၀၉ / ၂၀၁၄.၁၅ | |

| | | | |
|---|---|---|---|
| (မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန) စာအမှတ်၊ ........ ရုံးတံဆိပ် ရက်စွဲ၊ ........ | ၁။ လျှောက်ထားသူအမည် -ဒေါ်နှိုးကြည်-ပါ၂<br>၂။ လျှောက်လွှာတင်သည့်နေ့စွဲ - ၃၀.၇.၂၀၁၅<br>၃။ လျှောက်လွှာအမှတ် - ၁၅၈၅<br>၄။ လျှောက်သူသို့လက်ခံပေးသည့်နေ့စွဲ -<br>၅။ ရေးကူးပေးသည့်အကြောင်းအရာ -<br>(ဖော်ပြသည့်အကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)<br>အဂ္ဂဂၤ:စာချုပ်ချုပ်ဆိုရန် | ၂၀၁၅ /၁၆ ခုနှစ်၊ မြေပုံနှင့် မှတ်ပုံတင်စာရင်းတွင်ပါရှိသည့်အတိုင်း အမှန်လက်ခံရေးကူးကြောင်း သက်သေခံလက်မှတ်ရေးထိုးပါသည်။<br>ရေးကူးသူ<br>၃၀/၈/၂၀၁၅<br>မြေတိုင်း (၄)<br>(မြို့/မြေ)<br>မြေတိုင်း(၄)(မြို့/မြေ) | တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။<br>မြို့နယ်ဌာနခွဲမှူး<br>မြို့နယ်ဌာနခွဲ(မြို့/မြေ)တာဝန်ခံ<br>အတည်ပြုသည်။<br>၃၀/၈/၂၀၁၅<br>ဌာနစုမှူး (မြို့/မြေ)<br>ဌာနစုမှူး(မြို့/မြေ)အတည်ပြုသူ |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ရိုးမ စီလုံ ဟော်စပီတယ် ပန်းလှိုင် လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

❖❖❖❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

## Memoradum Of Association

*AND*

## Articles Of Association

*OF*

# Yoma Siloam Hospital Pun Hlaing Limited

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရိုးမ စီလုံ ပော်စပီတယ် ပန်းလှိုင် လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

***************

၁။ ကုမ္ပဏီ၏ အမည်သည် **ရိုးမ စီလုံ ပော်စပီတယ် ပန်းလှိုင် လီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာကျပ် USD 13,187,500.00 / ( အမေရိကန်ဒေါ်လာ တစ်ဆယ့်သုံးသန်း တစ်သိန်း ရှစ်သောင်း ခုနစ်ထောင့် ငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် USD 1.00 /- ( အမေရိကန်ဒေါ်လာတစ်ဒေါ်လာ တိတိ ) တန် အစုရှယ်ယာပေါင်း ( 13,187,500 ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲ ဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

## ဝန်ဆောင်မှု လုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရကခွင့်ပြုထားသော အောက်ဖော်ပြပါဝန်ဆောင်မှုလုပ်ငန်းများကို မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင် ဆောင်ရွက်ရန်။

(က) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့် အကြံပေးဝန်ဆောင်မှုလုပ်ငန်းများ။

(ခ) ကြော်ငြာနှင့်ကြော်ငြာကိုယ်စားလှယ်လုပ်ငန်း၊

(ဂ) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့်လုပ်ငန်းများ၊

(ဃ) ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး၊

(င) သယ်ယူပို့ဆောင်ရေးလုပ်ငန်း ( မီးရထားနှင့် လေကြောင်းမှအပ )

(စ) ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း၊

(ဆ) တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း၊

(ဇ) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်းရှိ-မရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများ ချမှတ်ခြင်း၊ စီမံကိန်းကုန်ကျစရိတ် ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်း လုပ်ငန်းများ၊

(ဈ) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊

(ည) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊

(ဋ) လျှပ်စစ်နှင့် အီလက်ထရောနစ်ကုန်ပစ္စည်းများ တပ်ဆင်ခြင်၊ ပြုပြင်ခြင်းနှင့် မွမ်းမံတည်ဆောက်ခြင်း လုပ်ငန်းများ။

၂။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေးအဖွဲ့အစည်းထံမဆိုငွေချေးယူရန်။

**ခြွင်းချက် ။** ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများလုပ်ကိုင် ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့်လျော်ညီ သင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားရှိခြင်းမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | **ဖက်(စ်)မြန်မာ အင်ဗက်(စ်)မဲ့(န်) ကုမ္ပဏီ လီမိတက်**<br>အက်(ဖ်)အမ်အိုင်စင်တာ၊ ( ၁၀-၁၁ ) ထပ်၊<br>အမှတ် ၃၈၀၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊<br>ပန်းဘဲတန်းမြို့နယ်၊ရန်ကုန်မြို့<br>ကုမ္ပဏီမှတ်ပုံတင်အမှတ်-<br>၁၅၉/ ၉၂-၉၃<br><br>ကိုယ်စားလှယ်<br>ဦးသိမ်းဝေ (ခေါ်) မစ္စတာ. ဆာ့စ်ပန်း | မြန်မာနိုင်ငံတွင် တည်ထောင်သည်<br><br>မြန်မာ<br>မှတ်ပုံတင်အမှတ်<br>၁၂/မဂတ(နိုင်)<br>၀၈၄၀၅၃ | ၆၀ | |
| ၂ | ပီတီ. ဝလုရ ဂါရုဟ လိုက<br>၂၁၂၁ ဘိုလီဘ ဂရူ မတာ #၀၁-၀၁<br>လစ်ပို ကာရာဝါစီကယ် ပနောင်ဂန်ဂန် ဘာရပ်<br>ကပ်စ်. စီဘိုဒတ်စ် တန်ဂိုရန်မြို့ အင်ဒိုနီးရှား။<br>ကုမ္ပဏီမှတ်ပုံတင်အမှတ်-<br>၃၀.၀၆.၁.၆၈.၀၉၆၈၇<br><br>ကိုယ်စားလှယ်<br>ဒေါက်တာ ဂါရူချန်တီပေါ | အင်ဒိုနီးရှား တွင် တည်ထောင်သည်<br><br>နယူးဇီလန်<br>PP NO. LN474255 | ၄၀ | |

ရန်ကုန် ။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဒေါ်သီသီဝင်း (LL.B)
[illegible]ထုတ်ဆောင်ရွက်နေ (စဉ်-၅၀၃၅)

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရှိုးမ စီလုံ ပော်စပီတယ် ပန်းလှိုင် လီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ

******************

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ "က" ပါ စည်းမျဉ်းများသည် ဤ ကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ ( ၂ ) တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက် စေမည်။

(က)ဤကုမ္ပဏီသည် ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ)ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာကျပ် USD 13,187,500.00 / ( အမေရိကန်ဒေါ်လာ တစ်ဆယ့်သုံးသန်း တစ်သိန်း ရှစ်သောင်း ခုနစ်ထောင့် ငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် USD 1.00 /-( အမေရိကန်ဒေါ်လာတစ်ဒေါ်လာ တိတိ ) တန် အစုရှယ်ယာပေါင်း ( 13,187,500 ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲ ဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ သင်းလုံးကျွတ်အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာ များ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရသည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက်အား အခြေအနေတစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်း ချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့ကသတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို ဖင်ပြစေ၍သော်လည်းကောင်းထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာ များကအသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျ ပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း ( ၁၀ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် –
(၁) **U Theim Wai @ Mr. Serge Pun**
(၂) **Dr.Ye' Moe Myint**
(၃) **U Tun Tun**
(၄) **Dr. Gershu Chandy Paul**
(၅) **Mr. Farid Harianto**
(၆) **Mr. Hendra Sidin.**

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (–)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒိဘင်ချာများ၊ ဒိဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မူတည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

### အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာ နှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

### ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည် ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဘဏ္ဍာပူဇော်ခများနှင့် အခကြေးငွေ များကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(က) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ငွေရငွေ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(ခ) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(ဂ) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများအား သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာချုပ်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့် အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊<br>နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | **ဖက်(စ်)မြန်မာ အင်ဗက်(စ်)မဲ့(န်) ကုမ္ပဏီ လီမိတက်**<br>အက်(ဖ်)အမ်အိုင်စင်တာ၊ ( ၁၀-၁၁ ) ထပ်၊<br>အမှတ် ၃၈၀၊ ဗိုလ်ချုပ်အောင်ဆန်းလမ်း၊<br>ပန်းဘဲတန်းမြို့နယ်၊ရန်ကုန်မြို့<br>ကုမ္ပဏီမှတ်ပုံတင်အမှတ်-<br>၁၅၉/ ၉၂-၉၃<br><br>ကိုယ်စားလှယ်<br>ဦးသိမ်းဝေ (ခေါ်) မစ္စတာ. ဆာ့စ်ပန်း | မြန်မာနိုင်ငံတွင်<br>တည်ထောင်သည်<br><br>မြန်မာ<br>မှတ်ပုံတင်အမှတ်<br>၁၂/မဂတ(နိုင်)<br>၀၈၄၀၅၃ | ၆၀ | |
| ၂ | **ဗီတီ. ဝလုရ ဂါရဟ လိုက**<br>၂၁၂၁ ဘိုလီဘ ဂချ မတ #၀၁-၀၁<br>လစ်ပို ကာရာဝါစီကာယ် ပနောင်ဂန်ဂန် ဘာရပ်<br>ကပ်စ်. စီဘိုဒတ်စ် တန်ဂျီရန်မြို့ အင်ဒိုနီးရှား။<br>ကုမ္ပဏီမှတ်ပုံတင်အမှတ်-<br>၃၀.၀၆.၁.၆၈.၀၉၆၈၇<br><br>ကိုယ်စားလှယ်<br>ဒေါက်တာ ဂါရှုချန်တီပေါ | အင်ဒိုနီးရှား တွင်<br>တည်ထောင်သည်<br><br>နယူးဇီလန်<br>PP NO. LN474255 | ၄၀ | |

ရန်ကုန် ။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ နိုဝင်ဘာလ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ဒေါ်ဘီဘီခင် (LL.B)
အထူးလွှတ်တော်ရှေ့နေ (စဉ်-၅၀၁၈)

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

## OF

## YOMA SILOAM HOSPITAL PUN HLAING LIMITED

**********

I. The name of the company is **YOMA SILOAM HOSPITAL PUN HLAING LIMITED.**

II. The registered office of the Company will be in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorized capital of the Company is USD 13,187,500.00 /- ( United States Dollar Thirteen Million , One hundred and Eighty Seven Thousand, Five Hundred Only ) divided into ( 13,187,500 ) shares of USD 1.00/-( One United States Dollar Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulation of the Company and the legislative provisions for the time being in force in this behalf.

1. Carry on the following Services either solely on its own or in joint-venture, with foreign or local partners-

    (A) All kinds of agency business, technical consultants, business consultants, management consultants and advisory services.

    (B) Advertising and it agency business.

    (C) Business of entertainments and related actives.

    (D) Business of all kinds of medical services

    (E) Business of transportation (except railways and airways)

    (F) Business of printing and publishing.

    (G) Business of surveying and inspection.

    (H) Business of feasibility study on new projects, projects formulation, projects proposal and projects evaluation.

    (I) Business of Account Writing, Auditing and legal Advisory Services.

    (J) Business of servicing, maintenance of repairing of all kinds of vehicles and machines

    (K) Business of installation, maintenance and renovation of electrical and electronic goods.

2. To borrow money for the benefit of the Company's business from any person, film, company bank or financial organization in the manners that the Company shall think fit.

***PROVISO*** – *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the company set opposite our respective names.

| Sr. No | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **First Myanmar Investment Company Limited**<br>FMI Center, Level 10 & 11, 380 Bogyoke Aung San Road, Pabedan Township, Yangon<br>REG : 159/92-93<br><br>REPRESENTED :<br>U Theim Wai @ Mr.Serge Pun | Incorporated In Myanmar<br><br>Myanmar<br>NRC NO:<br>12/MAGATA ( NAING ) 084053 | 60 | |
| 2. | **PT. Waluya Graha Loka**<br>2121 Boulevard Gajah Mada<br>#01-01 Lippo Karawaci Kel .<br>Panunggangan Baract Kec. Cibodas, Tangerang City, Indonesia.<br>REG: 30.06.1.68.09687<br><br>REPRESENTED :<br>Dr .Gershu Chandy Paul | Incorporated In Indonesia<br><br>New Zealand<br>PP NO. LN474255 | 40 | |

Yangon : Dated the day of November, 2014

It is hereby certified that the persons mentioned above put their signatures in my presence.

ဒေါ်သီသီစင် (LL.B)
တရားလွှတ်တော်ရှေ့နေ (ဝဉ်-၅၀၃၅)

